**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
**ခွင့်ပြုမိန့်**

ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၀၅၆/၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ မေ လ ၂၃ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဇော်ဘိုခန့်

(ခ) **အဘ အမည်** ဦးမောင်မောင်ဇော်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၀/မလမ(နိုင်) ၀၅၉၄၇၄

(ဃ) **နေရပ်လိပ်စာ** အမှတ်(၅)၊ မကြီးကြီးလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့်'သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံးမြို့နယ်၊ လောင်းလုံးကြိုးဝိုင်း၊ အကွက်အမှတ်(၂၄)ရှိ မြေဧက(၅၀)

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၁၀၆၄၅.၀၀ သန်း (US$ ၁၀.၇၄၂ သန်း အပါအဝင် ကျပ်သန်းပေါင်း တစ်သောင်း ခြောက်ရာ လေးဆယ့်ငါးတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ကန့်သတ်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၄၄ /၂၀၁၅(မနသ)
၂၀၁၅ ခုနှစ် မေလ ၂၃ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံးမြို့နယ်၊ လောင်းလုံးကြိုးဝိုင်း၊ အကွက်အမှတ်(၂၄)ရှိ မြေဧရိယာ(၅၀)ဧကကို ငှားရမ်း၍ ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၅ ခုနှစ် ဧပြီလ (၂၈) ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၇/၂၀၁၅) အစည်းအဝေး၌ တင်ပြခဲ့ရာခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ (ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြန်ရွှေပြည် သတ္တုတူးဖော်ရေးလီမိတက်အား ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ် ဖြန့်ဖြူးခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊မနသ- ၁၀၆၅/၂၀၁၅ ကိုထုတ်ပေးလိုက်သည်။

၂။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၁)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့် ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

ကန့်သတ်

MSP Decision MIC

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်။

(စ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ တွင်မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၆။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေငှားရမ်းခြင်းအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် ချုပ်ဆိုမည့် ကျောက်ထုတ်လုပ်ခြင်းဆိုင်ရာ သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ ကနဦးနှစ်(၃၀)နှင့် နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ နောက်ထပ် တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် (၂)ကြိမ် သက်တမ်းတိုးမြှင့်နိုင်သည်။

၈။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် မြေငှားရမ်းခနှုန်းထားအဖြစ် တစ်နှစ်လျှင် (၁)ဧကအတွက် ကျပ်၁၅၀၀၀ နှုန်းဖြင့် ဧက(၅၀) အတွက် ကျပ် ၇၅၀၀၀၀ (ကျပ်ခုနစ်သိန်းငါးသောင်းတိတိ)အား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနသို့ ပေးသွင်းရမည်။

၉။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် တူးဖော်ရရှိမည့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်(၁)ကျင်းလျှင် ဒေသပေါက်ဈေး၏ ၂၅ ရာခိုင်နှုန်းဖြင့် စုစုပေါင်းထုတ်လုပ်မည့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ပမာဏအတွက် ကျသင့်အခွန်ငွေကို သတ်မှတ်ထားသည့် နည်းလမ်းနှင့်အညီ သစ်တောဦးစီးဌာနသို့ ပေးသွင်းရမည်။

၁၀။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် ခွင့်ပြုမြေဧရိယာ (၁)ဧကလျှင် လုပ်ငန်းအာမခံငွေ ကျပ် ၅၀၀၀၀နှုန်းဖြင့် သစ်တောဦးစီးဌာနမှ သတ်မှတ်သည့် မြန်မာ့စီးပွားရေးဘဏ်တွင် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်။

၁၁။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်တို့ချုပ်ဆိုမည့် ကျောက်ထုတ်လုပ်ခြင်းဆိုင်ရာ သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များအား ထမ်းဆောင်ပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၁၂။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၄။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေးပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။

လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက် ရမည်။

၁၅။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည် ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၆။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှုအခြေအနေကိုဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ တနင်္သာရီတိုင်းဒေသကြီး၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၈။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၀။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက် ရမည်။

၂၁။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရကဝ-၃/မ- ၁၀၇၂ /၂၀၁၅ ( ၆၄၄-၈ )
ရက်စွဲ၊၂၀၁၅ ခုနှစ် မေလ ၁၃ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်

ကန့်သတ်

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၇-၈-၂၀၁၄ | | ရွှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော မြေငှားရမ်းစာချုပ် (မူကြမ်း)တင်ပြရန် လိုအပ်သဖြင့် အဆိုပြုလွှာအား ပြန်လည်ပေးပို့ခြင်း ဖြစ်ပါသည်။ |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၁၄-၈-၂၀၁၄ | ၂၂-၈-၂၀၁၄ | |
| | (ခ) သတ္တုတွင်းဝန်ကြီးဌာန | ၁၅-၈-၂၀၁၄ | ၂၆-၈-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၅-၈-၂၀၁၄ | ၁-၉-၂၀၁၄ | |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၁၅-၈-၂၀၁၄ | ၂-၉-၂၀၁၄ | |
| | စက်မှုဝန်ကြီးဌာန(ဒုတိယအကြိမ်) | ၁၁-၁၁-၂၀၁၄ | ၂၇-၁၁-၂၀၁၄ | |
| | (င) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၅-၈-၂၀၁၄ | ၈-၉-၂၀၁၄ | |
| | (စ) ဆောက်လုပ်ရေးဝန်ကြီးဌာန | ၉-၁၀-၂၀၁၄ | ၁၅-၁၀-၂၀၁၄ | |
| ၃။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့ တင်ပြခြင်း | ၁၂-၈-၂၀၁၄ | | |
| | အဆိုပြုလွှာလက်ခံကြောင်းပြန်ကြားခြင်း | ၁၈-၈-၂၀၁၄ | | |
| | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏အစည်းအဝေး ဆုံးဖြတ်ချက် ပြန်ကြားခြင်း | ၂၇-၈-၂၀၁၄ | | |
| ၄။ | ကုမ္ပဏီသို့ အဆိုပြုလွှာပြန်လည်ပေးပို့ခြင်း | ၁၂-၁၁-၂၀၁၄ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၉၆ )ရက်** | | |
| ၁။ | ရွှေ့နေချုပ်ရုံး သဘောထားမှတ်ချက် နှင့် အညီ ပြင်ဆင်ထားသော မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း) နှင့်အတူ အဆိုပြုလွှာ ပြန်လည်တင်ပြခြင်း | | ၉-၄-၂၀၁၅ | |
| ၂။ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ(၁၀)စုံပေးပို့ခြင်း | ၂၇-၄-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၁၈)ရက် | | |

**အကြောင်းအရာ။ မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်မှ တနင်္သာရီတိုင်းဒေကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်တွင် ဆောက်လုပ်ရေးလုပ်ငန်းသုံး ကျောက်ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့်စပ်လျဉ်းသည့် အဓိကအချက်များ**

| | | | | |
|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက် | | |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဇော်ဘိုခန့် (အဘ-ဦးမောင်မောင်ဇော်) | | |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) | | |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း | | |
| ၄။ | လုပ်ငန်းတည်နေရာ | - တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ လောင်းလုံ သစ်တောကြိုးဝိုင်း၊ အကွက် အမှတ်(၂၄)ရှိ မြေဧက(၅၀) | | |
| ၅။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦးနှစ် ၃၀နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် | | |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၁၀၆၄၅.၀၀၀ သန်း ( US$ ၁၀.၇၄၂ သန်း အပါအဝင်)** | | |
| | - ငွေပမာဏ | ကျပ် ၀.၁၅၈ သန်း | | |
| | - တင်သွင်းမည့် စက်ပစ္စည်း ကိရိယာများ | ကျပ် ၉၉၀၉.၇၂၆ သန်း (US$ ၁၀.၁၁၂ သန်း) | | |
| | - အဆောက်အအုံများ(ဆိပ်ခံတံတား) | ကျပ် ၄၅၇.၅၀၀ သန်း (US$ ၀.၄၆၇ သန်း) | | |
| | -မော်တော်ယာဉ်(ပြည်တွင်း) | ကျပ် ၁၁၇.၆၀၀ သန်း | | |
| | -မြေ | ကျပ် ၁၆၀.၀၁၆ သန်း (US$ ၀.၁၆၃ သန်း) | | |
| ၇။ | တည်ဆောက်ရေးကာလ | - ၁ နှစ် | | |
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်းချမှု (၆နှစ်ပြောက်) | - | | |
| | | **အမျိုးအမည်** | **ထုတ်လုပ်မှု အရေအတွက် (ကျင်း)** | **ရောင်းဈေးနှုန်း (US$/ ကျင်း)** |
| | | Crushed Rock 0mm-5mm | ၅၉,၁၈၂.၆၇ | ၁၀၂.၀၄ |
| | | Crushed Rock 5mm-25mm | ၁၆၀,၀၁၅.၀၈ | ၁၃၂.၆၅ |
| ၉။ | ဝင်ငွေ(၆ နှစ်ပြောက်) | - ကျပ် ၂၆၇၁၉.၇၀ သန်း | | |
| | အသုံးစရိတ်(၆ နှစ်ပြောက်) | ကျပ် ၂၁၆၀၈.၀၂ သန်း | | |
| | အသားတင်အမြတ်(၆ နှစ်ပြောက်) | ကျပ် ၅၁၁၁.၆၈ သန်း | | |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်ပြောက်) | | | |
| | ဝင်ငွေခွန် | ကျပ် ၁၇၀၃.၈၉ သန်း | | |
| | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၁၂၇၉.၆၁ သန်း | | |
| ၁၁။ | အရင်းကြေကာလ | - ၃ နှစ် ၁၀ လ | | |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၃၈.၅၆ % | | |
| ၁၃။ | ရောင်းချပုံ နည်းစနစ် | - ၁၀၀ % ပြည်တွင်း၌ရောင်းချမည်ဖြစ်ပါသည်။ | | |
| ၁၄။ | လုပ်သားအင်အား | - ပြည်တွင်း ၁၇၀ ဦး | | |
| ၁၅။ | လစာပေးချေမှု အစီအစဉ် | - ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာမှာ US$ ၁၁၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာမှာ US$ ၁၅၀၀ ဖြစ်ပါသည်။ | | |

| | | |
|---|---|---|
| ၁၆။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - လမ်းခင်းကျောက် ထုတ်လုပ်ခြင်းလုပ်ငန်းမှ ရရှိသည့် အမြတ်ငွေများထဲမှ ၂% အား ဝန်ထမ်းများ၏လူမှုအထောက်အကူပြု လုပ်ငန်းများတွင် အသုံးပြုသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၇။ | မီးဘေးကာကွယ်ရေးအစီအစဉ် | - မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ်တားဆီးမှု အစီအမံများ အနေဖြင့် ရေလှောင်ကန်ကို တည်ဆောက် ထားရှိမည်ဖြစ်ပြီး၊ ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့် ထားရှိမည် ဖြစ်ကြောင်း၊ ဝန်ထမ်းများအား မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ် နည်းပညာများ လေ့ကျင့်သင်ကြား ပေးမည်ဖြစ်ကြောင်း၊ လုပ်ငန်း ပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | အခြား | - တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံ မြို့နယ်၊ လောင်းလုံ သစ်တောကြိုးဝိုင်း၊ အကွက် အမှတ်(၂၄)ရှိ မြေဧရိယာ(၅၀)ဧကတွင် လမ်းခင်းကျောက် ထုတ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ရန်အတွက် မြန်ရွှေပြည်သတ္တုတူးဖော်ရေး လီမိတက်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနတို့ကြား ချုပ်ဆိုမည့် လမ်းခင်းကျောက်ထုတ်လုပ်ခြင်းဆိုင်ရာ စာချုပ်(မူကြမ်း)အား ပြည်ထောင်စု ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်တင်ပြထားပါသည်။<br>- သစ်တောဦးစီးဌာနနှင့် မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်တို့ကြားချုပ်ဆိုထားသည့် သစ်တောမြေအတွင်း ကျောက်ထုတ်လုပ်ခွင့် စာချုပ်မိတ္တူ တင်ပြထားပါသည်။ စာချုပ်တွင်မြေဧက (၅၀)အတွက် ကျင်း(၁၂၀၀၀)သာ တူးဖော် ထုတ်လုပ်ခွင့်ရရှိမည် ဖြစ်ပါသည်။ စာချုပ်သက်တမ်း တိုးမြှင့်ခွင့် လျှောက်ထားကြောင်း တင်ပြထားပါသည်။<br>- ယမ်းဘီလူးနှင့် ဆက်စပ်သုံးပစ္စည်းများကို ထိန်းသိမ်းထားရှိရန်အတွက် လောင်းလုံမြို့နယ်၊ သရက်တောကျေးရွာအုပ်စု၊ ရဲစခန်းနှင့် ခြံစည်းရိုးကပ်လျက်ရှိသော မြန်ရွှေပြည် သတ္တုတူးဖော်ရေးလီမိတက်ပိုင် မြေနေရာတွင် သတ္တုတွင်း ဦးစီးဌာနမှ ခွင့်ပြုထားသည့် ပုံစံအတိုင်း ယမ်းတိုက်ဆောက် လုပ်၍ သကျက်တောရဲစခန်း ကြီးကြပ်မှုဖြင့် ထိန်းသိမ်းထားရှိမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ယမ်းတိုက် ဆောက်လုပ်ခွင့်နှင့် ယမ်းဝယ်ယူခွင့်၊ သုံးစွဲခွင့် ရရှိရေးအား တနင်္သာရီတိုင်းဒေသကြီး၊ အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာန၏ ထောက်ခံချက်ဖြင့် ပြည်ထဲရေးဝန်ကြီးဌာနမှတဆင့် ကာကွယ်ရေး ဝန်ကြီးဌာနသို့ တင်ပြလျှောက်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | | |
|---|---|---|---|
| | | - | ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ၏ ၂၀%ကို ရေမြေ ထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် သစ်တော မြေအတွင်း မဟော်ဂနီပင်မျိုးသစ်များအား စိုက်ပျိုးပေးမည် ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း |
| တည်နေရာ | - တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ လောင်းလုံသစ်တောကြိုးဝိုင်း၊ အကွက်အမှတ်(၂၄)ရှိ မြေဧရိယာ (၅၀)ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၀၆၄၅.၀၀၀ သန်း (US$ ၁၀.၇၄၂ သန်း အပါအဝင်) |
| လုပ်ငန်းသက်တမ်း | - ကနဦးနှစ်(၃၀)နှင့် သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ် |
| အရင်းကြေကာလ | - ၃ နှစ် ၁၀ လ |
| IRR | - ၃၈.၅၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့်ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၀၄(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | | ၉၀၅.၇၅ |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၈၉၅၇.၂၇ |
| ၅ | ဝင်ငွေခွန် | ၈၅၁၉.၄၅ | ၁၁၉၂၇.၂၃ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၀.၇ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော်ပါက အခွန် ပေးရမည့် ဝန်ထမ်း(၈၅)ဦး |
| ၈ | မြေငှားရမ်းခရငွေ | | ၅.၂၅ |
| ၉ | CSR (၂%) | | ၇၁၅.၆၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၁၇၀ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | | ၈၅၂၁.၄၉ | ၂၂၅၁၂.၉၈ |
| | Cost : Benefit | ၁:၃ | |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၃ /မ-၁၀၇၂/၂၀၁၅( ၅၇၀ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေ လ ၂၈ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်တွင် ဆောက်လုပ်ရေးလုပ်ငန်းသုံး ကျောက်ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

၁။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်သည် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ လောင်းလုံသစ်တောကြိုးဝိုင်း၊ အကွက်အမှတ် (၂၄) ရှိ မြေဧရိယာ (၅၀) ဧကတွင် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဖော်ဘိုခန့် (အဘ-ဦးမောင်မောင်ဇော်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်တို့အကြား ချုပ်ဆိုမည့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ လောင်းလုံကြိုးဝိုင်း၊ အကွက်အမှတ် (၂၄) ရှိ မြေဧရိယာ (၅၀) ဧကကို ငှားရမ်း၍ လမ်းခင်းကျောက် ထုတ်လုပ်ခြင်းဆိုင်ရာ စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါ သည်-

(က) ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တော ရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန ၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော လောင်းလုံကြိုးဝိုင်း၊ အကွက်အမှတ် (၂၄) အတွင်းရှိ မြေဧက (၅၀) အတွက် “မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်” မှ တစ်နှစ်လျှင် တစ်ဧကအတွက် မြေငှားရမ်းခ မြန်မာကျပ်ငွေ (၁၅၀၀၀) နှုန်းဖြင့် ဧက(၅၀) အတွက် ၇၅၀၀၀၀ိ/- (ငွေကျပ် ခုနှစ်သိန်း ငါးသောင်းတိတိ) ကို ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တော ရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန သို့ ပေးသွင်းမည် ဖြစ်ပါသည်။ (စာချုပ်အပိုဒ် ၃-က)

(ခ) တစ်ဧက မြေငှားရမ်းခနှုန်းကို ပုံသေသတ်မှတ်ထားခြင်း မပြုလုပ်ပဲ တစ်ချိန်တွင် မြေငှားရမ်းခနှုန်းကိုနိုင်ငံတော်မှသတ်မှတ်သည့်အတိုင်းပေးသွင်းရန်။ (စာချုပ်အပိုဒ်၅-က)

(ဂ) မြန်မာ့အာမခံ ဥပဒေနှင့်အညီ လိုအပ်သော အာမခံများကို သစ်တောဦးစီးဌာန အမည်ဖြင့် ထားရှိရမည်။ (စာချုပ်အပိုဒ် ၇-ဂ)

(ဃ) ငှားရမ်းထားသော မြေအားလုံးကို သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကို သော်လည်းကောင်း ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏

ခွင့်ပြုချက် မရရှိဘဲ မည်သူ့ကိုမျှ တစ်ဆင့် ငှားရမ်းရောင်းချ၊ လွှဲအပ်၊ လွှဲပြောင်း၊ ပေါင်နှံ၊ ထုခွဲခြင်းမပြုရ။ ကိုယ်တိုင်လုပ်ကိုင်ခြင်း မရှိလျှင် သစ်တောဦးစီးဌာနသို့ ပြန်လည် အပ်နှံရမည်။ (စာချုပ်အပိုဒ် ၇-င)

(င) အငှားချထားခြင်းခံရသူသည် ခွင့်ပြုထားသည့် မြေဧရိယာတွင် လမ်းခင်းကျောက် တူးဖော်ထုတ်လုပ်ရာ၌ ကျောက်(၁)ကျင်းလျှင် ဒေသပေါက်ဈေး၏ ၂၅% ဖြင့် စုစုပေါင်း ထုတ်လုပ်သည့် လမ်းခင်းကျောက် ပမာဏ(ကျင်း) အတွက် ကျသင့်သော အခွန်ငွေကို သတ်မှတ်သည့် နည်းလမ်းနှင့်အညီ သစ်တောဦးစီးဌာနသို့ ပေးသွင်း ရမည်။ (စာချုပ်အပိုဒ် ၇-ဆ)

(စ) သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု အတွက် လုပ်ငန်း ဆောင်ရွက်ရန် ခွင့်ပြုထား သည့် မြေဧရိယာ (၅၀)ဧက ၏ ၂၀% ကို ရေမြေ ထိန်းသိမ်းရေး သစ်တောစိုက်ခင်း အဖြစ် ကြီးကြပ်စစ်ဆေးရန် လွယ်ကူမည့် သစ်တောနယ်မြေအတွင်း တည်ထောင် စိုက်ပျိုးပေးရန်ဝန်ခံကတိပြုပြီး တည်ထောင်စိုက်ပျိုးပေးရမည်။(စာချုပ်အပိုဒ် ၇-ဈ)

(ဆ) ကျောက်တူးဖော် ထုတ်လုပ်ရန် ခွင့်ပြုမြေဧရိယာ (၁)ဧကလျှင် လုပ်ငန်း အာမခံငွေ ကျပ် ၅၀၀၀၀ နှုန်းဖြင့် သစ်တောဦးစီးဌာနမှ သတ်မှတ်သည့် မြန်မာ့စီးပွားရေးဘဏ် တွင် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်။ (စာချုပ်အပိုဒ် ၇-ည)

(ဇ) ငှားရမ်း လုပ်ကိုင်ခွင့်ပြုသည့် ကာလ (၃၀)နှစ်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အတည်ပြုချက် ရရှိပြီးနောက် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသော နေ့ရက်မှ စတင်ရေတွက်သွားမည်ဖြစ်သည်။ (စာချုပ်အပိုဒ် ၉)

(ဈ) စာချုပ်သက်တမ်းကာလကို ကနဦးသက်တမ်း(၃၀)နှစ် သတ်မှတ်ပြီး နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ နောက်ထပ်တစ်ကြိမ် (၅)နှစ်ဖြင့် (၂)ကြိမ်အထိ ဆက်တိုက် သက်တမ်း တိုးမြှင့်ခွင့်ရှိပါသည်။ (စာချုပ်အပိုဒ် ၁၂)

(ည) အငှားချထားခြင်းခံရသူမှ လောင်းလုံးကြိုးဝိုင်း၊ အကွက်အမှတ်(၂၄)ရှိ မြေ(၅၀) ဧက တွင် လမ်းခင်းကျောက် တူးဖော်ထုတ်လုပ်ခြင်းအတွက် လုပ်ငန်းအာမခံငွေအဖြစ် တစ် ဧကလျှင် ကျပ် ၅၀,၀၀၀ (ကျပ် ငါးသောင်း တိတိ)နှုန်းဖြင့် စုစုပေါင်း ၂,၅၀၀,၀၀၀/- (ကျပ်နှစ်ဆယ့်ငါးသိန်းတိတိ)ကို သစ်တောဦးစီးဌာနသို့ သတ်မှတ်ထားသော နည်းလမ်းဖြင့် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်။ (စာချုပ်အပိုဒ် ၁၇-က)

(ဋ) စာချုပ်သက်တမ်း ကုန်ဆုံးလျှင် သော်လည်းကောင်း၊ လုပ်ငန်း မလုပ်လိုတော့၍ ပြန်လည် အပ်နှံလျှင်သော်လည်းကောင်း၊ ဝန်ခံကတိပြုထားသည့် ခွင့်ပြုမြေ ဧရိယာ ပမာဏ၏ ၂၀% ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် တည်ထောင် စိုက်ပျိုးပြီးစီးပါက လုပ်ငန်းအာမခံငွေကို ပြန်လည် ထုတ်ယူခွင့်ရှိသည်။ (စာချုပ် အပိုဒ် ၁၇-ခ)

(၄) စာချုပ်သက်တမ်း နှစ်(၃၀) ကုန်ဆုံးသည့်အခါ သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူညီပြီး နောက်ထပ် တစ်ကြိမ်လျှင် (၅)နှစ်နှင့် ဆက်တိုက် (၂)ကြိမ် သက်တမ်းတိုးကာလ ကုန်ဆုံးသည့်အချိန် အငှားချထားသည့် မြေကို အငှားချထားသူသို့ အငှားချထားခြင်းခံရသူက ငှားရမ်းစဉ် အခြေအနေကထက် မနိမ့်ကျဘဲ စာချုပ်သက်တမ်းကုန်ဆုံးပြီး(၃၀)ရက်အတွင်း အဖိုးစားနားမဲ့ လွှဲပြောင်းပေးရမည်။(စာချုပ်အပိုဒ် ၂၀-က)

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၁၀.၇၄၂)သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၀၆၄၅.၀၀၀)သန်းခန့် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | | | | | |
|---|---|---|---|---|---|
| (က) | ငွေပမာဏ | ကျပ် | ၀.၁၅၈ | သန်း | |
| (ခ) | စက်ပစ္စည်းကိရိယာများ | ကျပ် | ၉၉၀၉.၇၂၆ | သန်း | (US$ ၁၀.၁၁၂ သန်း) |
| (ဂ) | အဆောက်အအုံများ(ဆိပ်ခံတံတား) | ကျပ် | ၄၅၇.၅၀၀ | သန်း | (US$ ၀.၄၆၇ သန်း) |
| (ဃ) | မော်တော်ယာဉ်(ပြည်တွင်း) | ကျပ် | ၁၁၇.၆၀၀ | သန်း | |
| (င) | လုပ်ငန်းဆောင်ရွက်မည့်မြေ | ကျပ် | ၁၆၀.၀၁၆ | သန်း | (US$ ၀.၁၆၃ သန်း) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၁၀၆၄၅.၀၀၀** | **သန်း** | **(US$ ၁၀.၇၄၂ သန်း အပါအဝင်)** |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှလုပ်သား(၁၇၀)ဦးခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၁၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာမှာ US$ ၁၅၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်များကို ပြည်တွင်း ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(၆-နှစ်မြောက်) တွင် ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| **စဉ်** | **အမျိုးအမည်** | **ထုတ်လုပ်မှု အရေအတွက် (ကျင်း)** | **ရောင်းဈေးနှုန်း (US$/ကျင်း)** |
|---|---|---|---|
| ၁ | Crushed Rock 0mm- 5mm | ၅၉,၁၈၂.၆၇ | ၁၀၂.၀၄ |
| ၂ | Crushed Rock 5mm-25mm | ၁၆၀,၀၁၅.၀၈ | ၁၃၂.၆၅ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင်ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ဝင်ငွေ | - ကျပ် ၂၆၇၁၉.၇၀ သန်း |
| (ခ) | အသုံး စရိတ် | - ကျပ် ၂၁၆၀၈.၀၂ သန်း |
| (ဂ) | အသားတင်အမြတ် | - ကျပ် ၅၁၁၁.၆၈ သန်း |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် (၁၇၀၃.၈၉)သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ ကျပ်(၁၂၇၉.၆၁ )သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၃နှစ် ၁၀လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန် ပေါ်နှုန်း (IRR) မှာ (၃၈.၅၆ ) ရာခိုင်နှုန်း ဖြစ်ပါသည်။ အမေရိကန်တစ်ဒေါ်လာလျှင် ၉၈၀ ကျပ်နှုန်း ဖြင့် တွက်ချက်ထားပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင် ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိကြောင်း၊ မြို့နယ် ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါကြောင်းနှင့် ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲ ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ ကန့်ကွက်ရန်မရှိကြောင်း၊ (၂၂-၅-၂၀၁၄)ရက်နေ့ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး (၁၀/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၅)အရ ကျောက် ထုတ်လိုင်စင်ရရှိပြီးဖြစ်၍ တိုင်းဒေသကြီး အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိ ကြောင်း။

**(ကုမ္ပဏီမှ လုပ်ငန်း ဆောင်ရွက်ရာတွင် အသုံးပြုမည့် ယမ်းဘီလူးနှင့် ဆက်စပ်သုံး ပစ္စည်းများကို ထိန်းသိမ်းထား ရှိရန်အတွက် လောင်းလုံမြို့နယ်၊ သရက်တော ကျေးရွာ အုပ်စု၊ ရဲစခန်းနှင့် ခြံစည်းရိုးကပ်လျက်ရှိသော မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိ တက်ပိုင်မြေနေရာတွင် သတ္တုတွင်း ဦးစီးဌာနမှ ခွင့်ပြုထားသည့် ပုံစံအတိုင်းယမ်း တိုက် ဆောက်လုပ်၍ သကျက်တောရဲစခန်း ကြီးကြပ်မှုဖြင့် ထိန်းသိမ်းထားရှိမည် ဖြစ် ပါကြောင်း(၂၅-၈-၂၀၁၄)ရက်စွဲပါစာဖြင့်တင်ပြထားပါသည်။)**

**(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်-

(၁) စက်ရုံတည်ဆောက်မည့်နေရာနှင့် ကျောက်ထုတ်လုပ်မည့် တောင်များ၏ မြေမျက်နှာသွင်ပြင်လက္ခဏာ၊ မြေပြင်တည်ငြိမ်မှုအနေအထား၊ မြေအသုံးချမှု၊ မြေပြိုမှုနှင့် တောင်ပြိုမှုများ ရှိနိုင်-မရှိနိုင်တို့ကိုဆန်းစစ်ရန်၊

(၂) လေထုညစ်ညမ်းမှု လျော့ကျစေရေးနှင့် သက်ဆိုင်သည့် လုပ်ငန်းများ ဆောင်ရွက်ထားရှိရန်နှင့် ကျောက်တူးဖော်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်ဖြင့် ဆောင်ရွက်ရန်၊ တောတောင်နှင့်

သစ်တောများ မပျက်စီးစေရေးနှင့် မူလအခြေအနေသို့ ပြန်လည်ရောက်ရှိရေး ဆောင်ရွက်ရန်၊

(၃) လုပ်ငန်းစတင်လည်ပတ်ချိန်မှစ၍ ပိတ်သိမ်းချိန်အထိ ပတ်ဝန်းကျင်နှင့် သဟဇာတ ဖြစ်စေမည့် ဆောင်ရွက်ထားမှုများ၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုများ၊ လုပ်သားများ၏လုပ်ငန်းခွင် လုံခြုံရေးအစီအစဉ်များ၊ သယ်ယူပို့ဆောင်ရေး လုပ်ငန်းကြောင့် ဖြစ်ပေါ်နိုင်သည့် ထိခိုက်မှုများလျော့နည်းစေမည့် အစီအစဉ် များဆောင်ရွက်ရန်၊

(၄) အဆိုပြုလွှာပါ လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် စီမံကိန်း ဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး၊ လုပ်ငန်း ဆောင်ရွက်ရာ တွင်ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် အစီအစဉ်များရေးဆွဲ လိုက်နာဆောင်ရွက်ရန်၊

(၅) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေးနှင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) ကို ဆောင်ရွက် ရန်၊

(၆) အဆိုပါ ဆန်းစစ်တွေ့ရှိချက်များကို အခြေခံ၍ ပတ်ဝန်းကျင် ထိခိုက်မှု မဖြစ် စေရန်အတွက် ဆောင်ရွက်မည့် အစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင် စီမံ ခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲ တင်ပြရန်နှင့် အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၇) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေနှင့် စံသတ်မှတ်ချက်များ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (EMP)တို့တွင် ဖော်ပြပါရှိသည့်အချက်များအား လိုက်နာမည် ဖြစ် ကြောင်း လုပ်ငန်းရှင်၏ ကတိဝန်ခံချက်အား EIA အစီရင်ခံစာတွင် ထည့်သွင်း ဖော်ပြရန်၊

(၈) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သက်ဆိုင်ရာ ဝန်ကြီးဌာနအသီးသီးမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ မူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များ ကိုတိကျစွာလိုက်နာဆောင်ရွက်ရန်၊ (နောက်ဆက်တွဲ-ခ)

(ကုမ္ပဏီမှ အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်း ရေးအတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental

Management Plan- EMP)အစီရင်ခံစာတို့အား Green Myanmar Environmental Services Co.,Ltd. အဖွဲ့အားငှားရမ်း၍ ဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။)

(ဂ) **သတ္တုတွင်းဝန်ကြီးဌာနမှ** မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်မှ ဆောက်လုပ်ရေးလုပ်ငန်းသုံးနှင့် အထွေထွေသုံးကျောက် (လမ်းခင်းကျောက်) ထုတ်လုပ်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ သတ္တုတွင်းဝန်ကြီးဌာနမှ ကွင်းဆင်းစစ်ဆေးခဲ့ပြီး အနာဂတ်စီမံကိန်း ဧရိယာများနှင့် လွတ်ကင်းပြီး လုပ်ထုံးလုပ်နည်း နှင့်အညီ ဆောင်ရွက်ပါကသဘောထားမှတ်ချက် ဖော်ပြရန်မရှိကြောင်း၊ **(နောက်ဆက်တွဲ-ဂ)**

(ဃ)**စက်မှုဝန်ကြီးဌာနမှ**ကုမ္ပဏီ၏ တင်ပြချက်အရ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ကိုက်ညီမှုရှိသော်လည်း ထားဝယ်ခရိုင် အုပ်ချုပ်ရေးဦးစီးဌာန၏ မြေနှင့်မြေထွက်ပစ္စည်း တူးဖော်ထုတ်လုပ်ခွင့်လိုင်စင်တွင် သစ်တောမြေကျောက်ထုတ်လုပ်ခွင့် မြေဧက(၅၀)အတွင်း ကျင်း(၁၂,၀၀၀)သာ တူးဖော်ထုတ်လုပ်ခွင့်ရရှိမည်ဖြစ်၍ ကိုက်ညီမှုမရှိ(မရှိ)ပါကြောင်း၊ ကျောက်ထုတ်လုပ်ခြင်း လုပ်ငန်းတွင် (Granite)ကျောက်ဖြစ်သဖြင့် အပေါ်ယံလွှာနှင့် ရာသီဥတုဒဏ်ခံရသည့် ၁ပေ မှ ၁ပေခွဲခန့်အလွှာ၏ အတွင်းပိုင်းရှိ သိပ်သည်းမာကြောသောကျောက်များ ထုတ်လုပ်ရန်အတွက် ယမ်းနှင့်ဆက်စပ်ပစ္စည်းများ မဖြစ်မနေ အသုံးပြု၍ မိုင်းခွဲထုတ်လုပ်ရန် လိုအပ်ကြောင်း၊ လမ်းခင်းကျောက် ထုတ်လုပ်ခြင်းအတွက် ထားဝယ်ခရိုင် အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာနမှ ထုတ်ပေးသည့် မြေနှင့်မြေထွက်ပစ္စည်းတူးဖော်ထုတ်လုပ် ခွင့်လိုင်စင်၏ စည်းကမ်းချက်များတွင် ပေါက်ကွဲစေတတ်သော ဝတ္ထုပစ္စည်းများကို လုံးဝသုံးစွဲခွင့်မပြုဟု ဖော်ပြပါရှိသဖြင့် မလိုလားအပ်သော ကိစ္စရပ်များ မပေါ်ပေါက်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ရန် လိုအပ်ပါ ကြောင်း၊ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်မှ ဆောက်လုပ်ရေးလုပ်ငန်းသုံးနှင့် အထွေထွေသုံးကျောက် (လမ်းခင်းကျောက်) ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်း ဆောင်ရွက်ပြီး နိုင်ငံသား ရင်းနှီး မြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်း များနှင့် ညီညွတ်ပါက ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း၊

**(စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြန်လည် တင်ပြလာခြင်းအား စက်မှုဝန်ကြီးဌာနသို့ စိစစ်လက်ခံပြီး ဖြစ်ပါသည်။) (နောက်ဆက်တွဲ-ဃ)**

(င) **ဆောက်လုပ်ရေးဝန်ကြီးဌာနမှ** မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်မှ ဆောက်လုပ်ရေး လုပ်ငန်းသုံးနှင့် အထွေထွေသုံးကျောက် (လမ်းခင်းကျောက်) ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်လိုခြင်းကိစ္စနှင့် စပ်လျဉ်း၍ ဆောက်လုပ်ရေး

ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိသဖြင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါကြောင်း၊ **(နောက်ဆက်တွဲ-င)**

၉။ ကျပ်ငွေအထောက်အထားအဖြစ် ကမ္ဘောဇဘဏ် (သယ်န်းကျွန်း)တွင် မြန်ရွှေပြည် သတ္တုတူးဖော်ရေးလီမိတက် အမည်ဖြင့် (၃၀.၅.၂၀၁၄)ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁၁၉,၉၉၈,၉၅၀.၀၀ နှင့် (၇.၄.၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၉,၉၉၉,၉၅၀.၀၀ ရှိကြောင်းတင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ လုပ်ငန်းမှရရှိသော နိုင်ငံခြား ငွေကြေးများကို မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ် (MICB)၊ မြန်မာ့နိုင်ငံခြား ကုန်သွယ်မှု ဘဏ် (MFTB) နှင့် နိုင်ငံခြားငွေများကို တရားဝင် ရောင်းဝယ်ခွင့်ပြုမိန့် ရရှိထားသော ပုဂ္ဂလိကဘဏ်များ၏ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည်ဖြစ်ကြောင်း၊ တစ်နှစ်လျှင် ဝင်ငွေကျပ်၂၀ သိန်း အထက်ရရှိသော ဝန်ထမ်းများ၏ ကျသင့်သောဝင်ငွေခွန်ကို ဝင်ငွေခွန်ဥပဒေနှင့်အညီ ပေးဆောင်မည် ဖြစ်ကြောင်း၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် နှင့် မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် ကိုယ်ပိုင်မီးအားပေးစက်များဖြင့် လျှပ်စစ်ဓါတ်အား သုံးစွဲမည်ဖြစ်ပြီး နိုင်ငံတော်မှ လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးပေးပါက ထရန်စဖော်မာကိုပါ အားဖြည့်၍ သုံးစွဲမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်**

(က) တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ လောင်းလုံသစ်တောကြိုးဝိုင်း၊ အကွက်အမှတ် (၂၄)ရှိ မြေဧရိယာ(၅၀)ဧကကို ငှားရမ်း၍ လမ်းခင်းကျောက်ထုတ်လုပ်ခြင်း လုပ်ကိုင်ရန်အတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း) အား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် နှင့်အညီ တင်ပြထားပါသည်။

(ခ) ကျောက်ခွဲရာတွင် ယမ်းအသုံးပြုမည့် Normနှင့် ယမ်းထိန်းသိမ်းထားရှိမည့် အစီအစဉ်အား ဖော်ပြထားပါသည်။

(ဂ) သစ်တောမြေအတွင်း ကျောက်ထုတ်လုပ်ခွင့်စာချုပ်အား သက်တမ်း တိုးမြှင့်ခွင့် လျှောက်ထားကြောင်း တင်ပြထားပါသည်။

(ဃ) ကုမ္ပဏီမှ သစ်တောသစ်ပင် ပြန်လည်အစားထိုး စိုက်ပျိုးရေး စီမံချက်နှင့်အညီ သစ်တောသစ်ပင်များကို ပြန်လည်အစားထိုး စိုက်ပျိုးသွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြု နိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ လောင်းလုံသစ်တောကြိုးဝိုင်း၊ အကွက်အမှတ် (၂၄) ရှိ မြေဧရိယာ (၅၀) ဧကတွင် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

တနင်္သာရီတိုင်းဒေသကြီး

M-4869
12/9/14

စာအမှတ်၊ ၅၉၇၉/၇၇၃/၇-၇၃/အဖရ(တနင်္သာရီ)

ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ၈ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာသည့်ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) ဤရုံး၏(၁၃.၆.၂၀၁၄)ရက်စွဲပါ စာအမှတ်၊ ၂၈၈၅/ ၇၇၃/ ၇-၇၃/အဖရ (တနင်္သာရီ)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၅ . ၈ . ၂၀၁၄ ) ရက်စွဲပါ စာအမှတ်၊ ရက-၃/မ-၁၀၇၂/ ၂၀၁၄ (၁၀၄-က)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံးမြို့နယ်၊ ဇလွတ်ကျေးရွာအုပ်စု၊ ပြင်ကြီးကျေးရွာအနီး ကျောက်ပြင်တောင်မြေပုံအညွှန်း ခန့်မှန်း 95 k/2 (A-098141, B-103141, C,103134,D,098134)အတွင်းရှိ မြေဧရိယာ(၅၀)ဧကခွဲ မြန်ရွှေပြည်သတ္တုတူးဖော်ရေးကုမ္ပဏီ လီမိတက်သည် ကျောက်ထုတ်လုပ်၍ တနင်္သာရီတိုင်းဒေသကြီးနှင့် မြန်မာနိုင်ငံအတွင်းရှိ ဖွံ့ဖြိုးရေး လုပ်ငန်းများသို့ သတ်မှတ်စံချိန်များနှင့်ပြည့်မီသော ဆောက်လုပ်ရေးလုပ်ငန်းသုံး ခွဲကျောက်များကို ထုတ်လုပ်ပံ့ပိုးနိုင်ရန်အတွက် စီစဉ်ဆောင်ရွက်လျက်ရှိရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံခွင့် တင်ပြလျှောက်ထားနိုင်ရေးအတွက် ထောက်ခံချက်ပေးနိုင်ပါရန် မြန်ရွှေပြည်သတ္တု တူးဖော်ရေးကုမ္ပဏီလီမိတက်မှတင်ပြလာမှုအပေါ် ကန့်ကွက်ရန်မရှိကြောင်း ရည်ညွှန်း(၁)ပါစာဖြင့် သဘောထားပေးပို့ထားရှိပြီးဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းများနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေး ပါရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာမှုအပေါ် ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင် ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်းနှင့်

ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းသုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ကန့်ကွက်ရန်မရှိကြောင်း ထွက်ဆိုထားသော အထောက်အထားများအရ တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(တင်သိန်း၊ အတွင်းရေးမှူး)

မိတ္တူကို

မြန်မာပြည်သတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(ဖ)/( ၄၅၅၂ /၂၀၁၄)
ရက်စွဲ ၂၀၁၄ ခုနှစ်၊စက်တင်ဘာလ ၇ ရက်

M-4829
5.9.014

သို့
✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်၏ ဆောက်လုပ်ရေးလုပ်ငန်းသုံးနှင့်အထွေထွေသုံးကျောက် (လမ်းခင်းကျောက်) ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ တင်ပြခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၈-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၃/ မ-၁၀၇/၂၀၁၄(၁၀၄-ခ)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ လောင်းလုံးမြို့နယ်၊ လောင်းလုံးသစ်တောကြိုးဝိုင်း၊ အကွက်အမှတ် (၂၄) ရှိ မြေဧက(၅၀) တွင် ဆောက်လုပ်ရေးလုပ်ငန်းသုံးနှင့် အထွေထွေသုံးကျောက် (လမ်းခင်းကျောက်) ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးဌာနဆိုင်ရာ သဘောထားမှတ်ချက်ကိုပြန်ကြားအပ်ပါသည်။

၂။ အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံသူ၏ အဆိုပြုချက်၊ ငွေကြေးအထောက်အထားများ၊ မီးဘေးကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေး အစီအစဉ်များနှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးနှင့် အထွေထွေသုံးကျောက် (လမ်းခင်းကျောက်) ထုတ်လုပ်ခြင်းလုပ်ငန်းကိုဆောင်ရွက်မည်ဖြစ်ပြီး တစ်နှစ်လျှင် ကုဗမီတာ (၅၀၀၀၀၀) နှင့်အထက် ထုတ်လုပ်မည်ဖြစ်ကြောင်း၊ နေ့စဉ် ရေ (၁၀၀၀၀၀၀) ဂါလံ အသုံးပြုမည်ဖြစ်ကြောင်း၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ လုပ်ငန်းဆောင်ရွက်ရန် ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံချက်၊ ၂၀၁၄ ခုနှစ် ၊ ဇွန်လ (၆) ရက်နေ့ရက်စွဲပါ တနင်္သာရီတိုင်းဒေသကြီး၊ သစ်တောဦးစီးဌာနနှင့် မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်တို့၏ သစ်တောမြေအတွင်း ကျောက်ထုတ်လုပ်ခွင့်စာချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအနေဖြင့် ပတ်ဝန်းကျင်နှင့်အလုပ်သမားများအား ထိခိုက်မှုမရှိစေရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ကျွမ်းကျင်သူ ကျောက်တူးဖော်ရေး ပညာရှင်များပါဝင်သော အကြံပေးအဖွဲ့၏ လမ်းညွှန်ကြီးကြပ်မှုဖြင့်ဆောင်ရွက်ခြင်း၊ ခွဲကျောက်အလေအလွင့်များကို လုပ်ငန်းခွင်အတွင်း သွားလာမှုလွယ်ကူစေရန် လမ်းများဖောက်လုပ်ရာ၌ စနစ်တကျ အသုံးပြုခြင်း၊ စီမံကိန်းလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းပြုလုပ်၍ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်ကို ရေးဆွဲပြုစုကာ

ရေးဥပဒေ ပြဋ္ဌာန်းချက်များနှင့် နည်းဥပဒေများအား လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုချက်များအား ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ လမ်းခင်းကျောက်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် သစ်တောများရှင်းလင်းခြင်း၊ လုပ်ငန်းသုံးယာဉ်၊ ယန္တရားများသယ်ယူခြင်းကြောင့် မူလတည်ရှိသည့် သစ်တောဂေဟစနစ် နှင့် ဝန်ဆောင်မှုများ ဆုံးရှုံးနိုင်ခြင်းနှင့်သစ်တောအတန်းအစားကျဆင်းစေခြင်း၊မြေတူးစက်များ၊ မီးစက်များ၊ စိန်လွှန်တူးစက်များ အသုံးပြုမည်ဖြစ်သဖြင့် အဆိုပါပစ္စည်းများ သယ်ယူပို့ဆောင်ရန်အတွက် လမ်းများဖောက်လုပ်ခြင်း၊ အဆောက်အဦများ ဆောက်လုပ်ခြင်း၊ မိုင်းခွဲခြင်း၊ စိန်လွှန်တူးခြင်းစသည်တို့ကြောင့် အသံဆူညံမှုနှင့် တိရစ္ဆာန်များ၏ နေထိုင်ကျက်စားသည့် နေရာများပျက်စီးနိုင်ခြင်း၊ စက်သုံးဆီများနှင့် စွန့်ပစ်ပစ္စည်းများကြောင့် မြေထုညစ်ညမ်းမှု၊ ကျောက်တူးဖော်ခြင်း နှင့် သယ်ယူပို့ဆောင်ရေး လုပ်ငန်းဆောင်ရွက်ရာမှ ဖုန်နှင့် ကျောက်မှုန့်များ ထွက်ရှိနိုင်ခြင်းတို့ကြောင့် လေထုညစ်ညမ်းမှု၊ လုပ်သားများအား ကျန်းမာရေး ဆိုင်ရာထိခိုက်နိုင်မှုအစရှိသည့် ပတ်ဝန်းကျင်နှင့်ကျန်းမာရေးဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ လောင်းလုံးမြို့နယ်၊ လောင်းလုံးကြိုးဝိုင်း၊ အကွက်အမှတ် (၂၄) ရှိ မြေဧရိယာ (၅၀) ဧကတွင် လမ်းခင်းကျောက် ထုတ်လုပ်ခြင်းနှင့် ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ တင်ပြလျှောက်ထားချက်အရ စိစစ်ပြီး အဆိုပါ မြေဧရိယာ(၅၀) ဧကအတွက် ကျောက်တစ်တွင်းလျှင် ဒေသပေါက်ဈေး၏ (၂၅%)နှင့် သတ်မှတ်ထားသည့် လုပ်ငန်းအာမခံငွေများ ပေးသွင်းစေ၍ နှစ်စဉ်ထုတ်လုပ်မည့်ဧရိယာနှင့် လုပ်ငန်းပမာဏအလိုက် သက်ဆိုင်ရာကုမ္ပဏီနှင့် သစ်တောဦးစီးဌာနတို့အကြား စာချုပ်ချုပ်ဆို ဆောင်ရွက်ခွင့်ပြုထားပါကြောင်း ဖော်ပြအပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်မှ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်းဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) စက်ရုံတည်ဆောက်မည့်နေရာနှင့် ကျောက်ထုတ်လုပ်မည့် တောင်များ၏ မြေမျက်နှာသွင်ပြင်လက္ခဏာ၊ မြေပြင်တည်ငြိမ်မှုအနေအထား၊ မြေအသုံးချမှု၊ မြေပြိုမှုနှင့်တောင်ပြိုမှုများ ရှိနိုင်-မရှိနိုင်တို့ကို ဆန်းစစ်ရန်၊

(ခ) လေထုညစ်ညမ်းမှုလျှော့ကျစေရေးနှင့်သက်ဆိုင်သည့် လုပ်ငန်းများဆောင်ရွက်ထားရှိရန်နှင့်ကျောက်တူးဖော်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်ဖြင့်ဆောင်ရွက်ရန်၊တောတောင်နှင့်သစ်တောများ မပျက်စီးစေရေးနှင့်မူလအခြေအနေသို့ ပြန်လည်ရောက်ရှိစေရေး ဆောင်ရွက်ရန်၊

(ဂ) လုပ်ငန်းစတင်လည်ပတ်ချိန်မှစ၍ပိတ်သိမ်းချိန်အထိ ပတ်ဝန်းကျင်နှင့်သဟဇာတဖြစ်စေမည့် ဆောင်ရွက်ထားရှိမှုများ၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုများ၊ လုပ်သားများ၏လုပ်ငန်းခွင် လုံခြုံရေးအစီအစဉ်များ၊ သယ်ယူပို့ဆောင်ရေးလုပ်ငန်းကြောင့် ဖြစ်ပေါ်နိုင်သည့် ထိခိုက်နိုင်မှုများလျှော့နည်းစေမည့် အစီအစဉ်များဆောင်ရွက်ရန်၊

(ဃ) အဆိုပြုလွှာပါ လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်မှုများကိုရှောင်ရှားနိုင်ရန်အတွက် စီမံကိန်းဆိုင်ရာအချက်

NPT-1250
3-9.14

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁- စမ(၂) ၂၀၁၄-၂၀၁၅ (၂၄၆၅)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅.၈.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၀၇၂/ ၂၀၁၄ (၁၀၄-၈)

၁။ မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်သည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ လောင်းလုံသစ်တောကြိုးဝိုင်း အကွက်အမှတ်(၂၄)တွင် ဆောက်လုပ်ရေးလုပ်ငန်းသုံးနှင့် အထွေထွေသုံးကျောက်(လမ်းခင်းကျောက်) ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံပြီး ဆောက်လုပ်ရေးလုပ်ငန်းသုံးနှင့် အထွေထွေသုံးကျောက်(လမ်းခင်းကျောက်)ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်း၊ ကုန်ချောဈေးနှုန်းများ တင်ပြထားချက် ဆီလျော်မှုရှိပါသည်။

(စ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ ဝန်ထမ်းအင်အား အချိုးအစား ညီမျှမှုရှိပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**ဆောက်လုပ်ရေးဝန်ကြီးဌာန**

ဝန်ကြီးရုံး

နေပြည်တော်

စာအမှတ်၊ ၁ / ခွဲ - ၂ / ထွေ / ၂၀၁၄ (စီ ၁၂၇၉)
ရက် စွဲ ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ ခုနှစ် အောက်တိုဘာလ (၉) ရက်နေ့စွဲပါစာအမှတ်၊ ရက-၃/မ-၁၀၇၂/၂၀၁၄(၃၅၉-က)

၁။ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ လောင်းလုံသစ်တောကြိုးဝိုင်း အကွက်အမှတ် (၂၄) ရှိ မြေဧက(၅၀)တွင် ဆောက်လုပ်ရေးလုပ်ငန်းသုံး နှင့် အထွေထွေသုံးကျောက်(လမ်းခင်းကျောက်) ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် တင်ပြခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည် ။

၂။ အဆိုပါ မြန်ရွှေပြည် သတ္တုတူးဖော်ရေး လီမိတက်မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး နှင့် အထွေထွေသုံးကျောက်(လမ်းခင်းကျောက်) ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်လိုခြင်းကိစ္စနှင့် စပ်လျဉ်း၍ ဆောက်လုပ်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိသဖြင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည် ။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

အောင်ထွန်း၊ ရုံးအဖွဲ့မှူး

မိတ္တူကို

- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

MT-1051
27.8.14

M. 4774
2818



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
**ဝန် ကြီး ရုံး**
နေပြည်တော်

စာအမှတ်၊ ၃၀ ခွဲ (၂) ၁၄ ( ၈၉၃၁ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅.၈.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၃/မ-၁၀၇၂/၂၀၁၄ (၁၀၄ - ဃ)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် တောင်းခံလာသောကိစ္စနှင့်ပတ်သက်၍ စိစစ်ခဲ့ရာ အောက်ပါအတိုင်း တွေ့ရှိရပါသည် -

(က) မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်သည် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ လောင်းလုံးမြို့နယ်၊ ဇလွတ်ကျေးရွာအုပ်စု၊ ပြင်ကြီးကျေးရွာအနီး လောင်းလုံးသစ်တောကြိုးဝိုင်း အကွက်အမှတ်(၂၄)ရှိ မြေဧရိယာ(၅၀)ဧက အတွက် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တော ရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန၏ သစ်တောမြေအတွင်း ကျောက်ထုတ်လုပ်ခွင့် စာချုပ်များ ရရှိပြီးဖြစ်ပါသည်။

(ခ) ထားဝယ်ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနမှ မြေနှင့်မြေထွက်ပစ္စည်းတူးဖော်ထုတ်လုပ်ခွင့် လိုင်စင်မှတ်ပုံတင်အမှတ် (၁၂/၂၀၁၃ - ၂၀၁၄)ကို (၃.၂.၂၀၁၄)ရက်နေ့မှ (၂.၂.၂၀၁၅)ရက်နေ့ အထိ (၁)နှစ်သက်တမ်းကာလဖြင့် ထုတ်ပေးထားပါသည်။

(ဂ) သတ္တုတွင်းဝန်ကြီးဌာနအနေဖြင့် မြန်မာ့သတ္တုတွင်းဥပဒေ ပုဒ်မ ၂ (င) ပါ စက်မှုတွင်းထွက် ကုန်ကြမ်းပစ္စည်း၊ မြန်မာ့သတ္တုတွင်းဥပဒေ ၂ (စ) ပါ အလှဆင်ကျောက်တို့နှင့် ငြိစွန်းမှု ရှိ/မရှိ ကျွမ်းကျင်သူများပါဝင်သောအဖွဲ့ဖြင့် မြေပြင်ကွင်းဆင်းစစ်ဆေးပြီး လမ်းခင်းကျောက် ထုတ်လုပ်ခွင့်ပြုနိုင်ရေးအတွက်သက်ဆိုင်ရာတိုင်းဒေသကြီး/ပြည်နယ်အစိုးရအဖွဲ့၊အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာနများသို့ သဘောထားမှတ်ချက် ပြန်ကြားပေးခြင်းသာဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်ရွှေပြည်သတ္တုတူးဖော်ရေးလီမိတက်မှ ဆောက်လုပ်ရေးလုပ်ငန်းသုံးနှင့် အထွေထွေ သုံးကျောက်(လမ်းခင်းကျောက်) ထုတ်လုပ်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ (သို့မဟုတ်) ထားဝယ်ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနတို့မှ သဘောထားမှတ်ချက် တောင်းခံလာခြင်း မရှိ သေးသဖြင့် သတ္တုတွင်းဝန်ကြီးဌာနမှ ကျွမ်းကျင်သူများပါဝင်သောအဖွဲ့ဖြင့် မြေပြင်ကွင်းဆင်းစစ်ဆေးမှုများ ဆောင်ရွက်ခဲ့ခြင်း မရှိသေးကြောင်း ပြန်ကြားအပ်ပါသည်။

26/8/14

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(မင်းမင်းဦး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ သတ္တုတွင်းဦးစီးဌာန

D:\2014\30-section(2)-13\MIC.doc

